အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ချီဖွေငယ်ရေအားလျှပ်စစ်ကုမ္ပဏီလီမိတက်မှ ချီဖွေချောင်းပေါ်တွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ချီဖွေငယ်ရေအားလျှပ်စစ်ကုမ္ပဏီလီမိတက်<br>ဒေါ်မိမိခိုင်(ညွှန်ကြားရေးမှူးချုပ်)<br>လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန ၁၅%<br>- CPI Yunnan International Power Investment Co., Ltd. (တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၈၀%<br>- Royal Victory Services Co., Ltd.(မြန်မာနိုင်ငံ) ၅% |
| ၃။ | လုပ်ငန်းအမျိုးအစား | - ကချင်ပြည်နယ်၊ ချီဖွေမြို့၏ အရှေ့တောင်ဘက် ၁၁ မိုင်ခန့် အကွာနှင့် အရှေ့ဘက် ၁၈ ကီလိုမီတာအကွာ ချီဖွေချောင်းပေါ်တွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ် ဓာတ်အားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၄။ | တည်နေရာနှင့် မြေအကျယ်အဝန်း | - ကချင်ပြည်နယ်၊ ချီဖွေမြို့၏ အရှေ့တောင်ဘက် ၁၁မိုင်ခန့်အကွာနှင့် ချီဖွေမြို့၏ အရှေ့ဘက် ၁၈ ကီလိုမီတာအကွာ ချီဖွေချောင်းရှိ မြေလွတ်၊ မြေ လပ်နှင့် မြေရိုင်း ၂၂၀.၁၇ ဧကနှင့် လယ်မြေ ၂ ဧက စုစုပေါင်းမြေ ၂၂၂.၁၇ ဧက |
| | မြေပိုင်ရှင် | -ချီဖွေငယ်ရေအား လျှပ်စစ်ကုမ္ပဏီလီမိတက် |
| ၅။ | စုစုပေါင်း မတည်ငွေရင်း | - အမေရိကန် ဒေါ်လာ ၂၄၂.၃၈၈ သန်း |

| | စုစုပေါင်း US$(သန်း) |
|---|---|
| ငွေသား | - |
| လျှပ်စစ်နှင့်စက်မှုပစ္စည်းများ | ၄၆.၉၄၉ |
| ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုး | ၂၁.၄၃၅ |
| အခြား (ဆောက်လုပ်ရေး ပစ္စည်းများစသည်) | ၁၇၄.၀၀၄ |
| **စုစုပေါင်း** | **၂၄၂.၃၈၈** |

* စက်/ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာများ၊ ကုန်ကြမ်းပစ္စည်းနှင့် အခြားအလားတူပစ္စည်းများအား အခွန်အကောက်ပေးဆောင် တင်သွင်းပြီးဖြစ်ပါသည်။

* ဖက်စပ်စာချုပ်အရ Commercial Operation Date မတိုင်မီကာလ နှစ်စဉ်အသုံးစရိတ်များသည် Project Cost အဖြစ် ထည့်သွင်းသတ်မှတ်ရမည်ဖြစ်သည့်အတွက် COD သတ်မှတ်သည့်အချိန်တွင် Project Cost အား နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့် သတ်မှတ်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၇။ | လုပ်ငန်းသက်တမ်း | - ၄၀ နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - မရှိပါ။ |
| ၉။ | ဝန်ထမ်းအင်အား<br>လုပ်ငန်းလည်ပတ်စဉ်(ပထမနှစ်) | - ၈၀ ဦး<br>- ၆၄ ဦး(ပြည်တွင်း) (အနိမ့်ဆုံးလစာ US$ ၄၀၀<br>အမြင့်ဆုံးလစာ US$ ၁,၃၀၀)<br>- ၁၆ ဦး (ပြည်ပ) (အနိမ့်ဆုံးလစာ US$ ၆၅၀<br>အမြင့်ဆုံးလစာ US ၂,၆၀၀)<br>* အမေရိကန်တစ်ဒေါ်လာလျှင် တရုတ်ယွမ်ငွေ ၆.၁၅ဖြင့် တွက်ချက်ထားပါသည်။ |
| ၁၀။ | နှစ်စဉ်ထုတ်လုပ်မည့်<br>လျှပ်စစ်ဓာတ်အား<br>တစ်ယူနစ်ရောင်းချမည့်ဈေးနှုန်း | - ၅၉၉ ကီလိုဝပ်နာရီသန်းပေါင်း<br><br>- တရုတ်ယွမ် ၀.၃၇၅ နှင့် ညီမျှသော မြန်မာကျပ်ငွေ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ ခ-၀၁၄/၂၀၁၇(၅၅၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ချီဖွေငယ်ရေအားလျှပ်စစ် ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ချီဖွေချောင်းပေါ်တွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအားလျှပ်စစ် ဓာတ်အားပေး စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ လျှပ်စစ်စွမ်းအား စီမံရေးဦးစီးဌာန၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ ၁၅%၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ CPI Yunnan International Power Investment Co., Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံ Royal Victory Services Ltd. မှ ၅% အသီးသီး ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ချီဖွေငယ်ရေအား လျှပ်စစ်ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ကချင်ပြည်နယ်၊ ချီဖွေမြို့၏ အရှေ့တောင်ဘက် ၁၁ မိုင်ခန့်အကွာနှင့် အရှေ့ဘက် ၁၈ ကီလိုမီတာအကွာ ချီဖွေချောင်းအနီးရှိ စီမံကိန်းဧရိယာဖြစ်သော ရစ်ဂျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (OSS) ရှိမြေ ၂၂၂.၁၇ ဧကတွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာပါသည်။

၂။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန (ယခင် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် ချီဖွေငယ်ရေအားလျှပ်စစ်ကုမ္ပဏီလီမိတက်တို့အကြား လျှပ်စစ်ဓာတ်အား ဝယ်ယူရေးသဘောတူစာချုပ်အား ၂၀၁၅ခုနှစ်မှစ၍ နှစ်စဉ်ချုပ်ဆိုခဲ့ကြောင်းနှင့် ယခုတင်ပြသော သဘောတူစာချုပ်သည် ယခင်နှစ်များအတိုင်း ပြောင်းလဲမှုမရှိသဖြင့် တစ်ဆက်တစ်စပ်တည်း ချုပ်ဆိုရန် လိုအပ်ပြီး ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ်များသည် နှစ်စဉ် မတ်လ ၃၁ ရက် နေ့တွင် သက်တမ်းကုန်ဆုံးမည်ဖြစ်ပါသည်။ အဆိုပါ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုခွင့်နှင့် စပ်လျဉ်း၍ ၁၄-၉-၂၀၁၇ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာ ကော်မတီ၏ (၁၅/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးတွင် ၂၀၁၇-၂၀၁၈ ခုနှစ် ဘဏ္ဍာရေးနှစ်အတွက် ချီဖွေငယ်ရေအား လျှပ်စစ်ကုမ္ပဏီနှင့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးသဘောတူစာချုပ်ချုပ်ဆိုခွင့်အား သဘောတူကြောင်း ဆုံးဖြတ်ခဲ့သဖြင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန (ယခင်လျှပ်စစ် စွမ်းအားဝန်ကြီးဌာန) လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် ချီဖွေငယ်ရေအားလျှပ်စစ်ကုမ္ပဏီလီမိတက်တို့အကြား ချီဖွေငယ်ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံ ဆောင်ရွက်ရန်အတွက် ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသောလျှပ်စစ်ဓာတ်အားဝယ်ယူရေးသဘောတူစာချုပ်အားတင်ပြထားပါသည်။

၃။ စက်ရုံမှထွက်ရှိသော လျှပ်စစ်ဓာတ်အားများကို ၂၀၁၃ ခုနှစ် နိုဝင်ဘာလမှစတင်၍ ၂၀၁၅-၂၀၁၆ ဘဏ္ဍာနှစ်အထိ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းသို့လည်းကောင်း၊ ၂၀၁၆-၂၀၁၇ ဘဏ္ဍာနှစ်မှစ၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်း၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့လည်းကောင်း ဓာတ်အားခတစ်ယူနစ်လျှင် တရုတ်ယွမ် ၀.၃၇၅ နှင့် ညီမျှသော မြန်မာကျပ်ငွေဖြင့် ရောင်းချလျက် ရှိ

ကြောင်းနှင့် တစ်နှစ်လျှင် ပျမ်းမျှကီလိုဝပ်နာရီသန်းပေါင်း ၅၉၉ သန်းထုတ်လုပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း၏ သက်တမ်းကာလမှာ ကနဦးနှစ် ၄၀ ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ ချီဖွေငယ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံသည် ၁၀၀% ပြီးစီးပြီဖြစ်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်နိုင်ပြီဖြစ်သော်လည်း ဓာတ်အားရယူသုံးစွဲမည့် မေခ၊ မလိခနှင့် ဧရာဝတီမြစ်ဆုံ-မြစ်ညာမြစ်ဝှမ်းများပေါ်တွင် တည်ဆောက်မည့် စီမံကိန်းများမှာ အကောင်အထည်ဖော်နိုင်မှုမရှိသေးခြင်းကြောင့် စီမံကိန်းအား Non-commercial Nature မှ Commercial Nature အဖြစ် ပြောင်းလဲ၍ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက်လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန၊CPI Yunnan International Power Investment Co., Ltd. (CPIYN) နှင့် Asia World Co., Ltd. (AWC) တို့ JV/BOT စနစ်ဖြင့် ဖက်စပ်စာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုခွင့်နှင့်စပ်လျဉ်း၍ ၁၅-၁-၂၀၁၅ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂/၂၀၁၅) ကြိမ်မြောက်အစည်းအဝေး သဘောတူခွင့်ပြုချက်အရ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့တွင် ဖက်စပ်စာချုပ်အား လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပါ ဖက်စပ်သဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဖက်စပ်စာချုပ်၏ သက်တမ်းကာလမှာ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင်သည့်နေ့မှ စတင်၍ ၄၀နှစ် ဖြစ်ပါသည်။ **အပိုဒ်-၃-၂**

(ခ) စာချုပ်သက်တမ်းကုန်ဆုံးချိန်တွင် operational facility အား လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနသို့ ပြန်လည်လွှဲပြောင်းရမည်ဖြစ်သည်။ **အပိုဒ်-၃-၃**

(ဂ) Royalty Payment အဖြစ် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနမှ ရင်းနှီးမြှုပ်နှံမှုပမာဏတွင် အခမဲ့ရှယ်ယာ ၁၅% ထည့်ဝင်ခွင့်ရရှိမည်ဖြစ်ပါသည်။ **အပိုဒ်-၆-၁**

၆။ အဆိုပြုလုပ်ငန်း၏ ထည့်ဝင်ပြီးဖြစ်သည့် စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂၄၂.၃၈၈ သန်း ဖြစ်ပြီး ချေးငွေပမာဏမှာ စုစုပေါင်းမတည်ငွေရင်း၏ ၇၀ % ဖြစ်သော အမေရိကန်ဒေါ်လာ ၁၆၉.၆၇ သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | စုစုပေါင်း ကျပ်(သန်း) |
|---|---|
| ငွေသား | - |
| လျှပ်စစ်နှင့်စက်မှုပစ္စည်းများ | ၄၆.၉၄၉ |
| ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုး | ၂၀.၄၃၅ |
| အခြား (ဆောက်လုပ်ရေးပစ္စည်းများစသည်) | ၁၇၄.၀၀၄ |
| **စုစုပေါင်း** | ၂၄၂.၃၈၈ |

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၆၄ ဦးခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ၁၆ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၃၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၆၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၆၀၀ ဖြစ်ပါသည်။ အမေရိကန် တစ်ဒေါ်လာလျှင် တရုတ်ယွမ်ငွေ ၆.၁၅ဖြင့်တွက်ချက်ထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ တစ်ဖက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှု နည်းပါးသော ဒေသဇုန်(၁)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ကချင်ပြည်နယ်အစိုးရအဖွဲ့ အနေဖြင့် ချီဖွေငယ် ရေအားလျှပ်စစ် ကုမ္ပဏီလီမိတက်မှ လုပ်ထုံးလုပ်နည်းနှင့်အညီ စနစ်တကျ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်အား နောက်ဆက်တွဲဖြင့် တင်ပြထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ချီဖွေငယ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံဧရိယာနှင့် ပင်မတမံကြားရှိ မြေဧရိယာ (၂၂၂.၁၇)ဧကအား အခြားနည်း အသုံးပြုခွင့်ရရှိရေးအတွက် ချီဖွေငယ်ရေအား လျှပ်စစ် ဓာတ်အားပေးစက်ရုံမှ ကချင်ပြည်နယ်အစိုးရအဖွဲ့သို့ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီ လ(၆)ရက်နေ့ ရက်စွဲပါစာဖြင့် လျှောက်ထားတင်ပြထားသော အထောက်အထားအား တင်ပြထားပါသည်။

(င) စက်/ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာများ၊ ကုန်ကြမ်းပစ္စည်းနှင့် အခြားအလားတူပစ္စည်းများအား အခွန်အကောက် ပေးဆောင်တင်သွင်းပြီးဖြစ်ပါသည်။ ဖက်စပ်စာချုပ်အရ Commercial Operation Date မတိုင်မီကာလ နှစ်စဉ်အသုံးစရိတ်များသည် Project Cost အဖြစ်ထည့်သွင်း သတ်မှတ်ရမည်ဖြစ်သည့်အတွက် COD သတ်မှတ်သည့်အချိန်တွင် Project Cost အား နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့် သတ်မှတ်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ချီဖွေငယ်ရေအား လျှပ်စစ်ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ကချင်ပြည်နယ်၊ ချီဖွေမြို့၏ အရှေ့တောင်ဘက် ၁၁ မိုင်ခန့်အကွာနှင့် အရှေ့ဘက် ၁၈ ကီလိုမီတာအကွာ ချီဖွေချောင်းအနီးရှိ စီမံကိန်းဧရိယာဖြစ်သော ရစ်ဂျော်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (OSS) ရှိမြေ ၂၂၂.၁၇ ဧကတွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ကချင်ပြည်နယ်

စာအမှတ်၊ ၂ / ၃ - ၇၆(၁၃၇ ၉၉)/ အစိုးရအဖွဲ့ (ကချင်)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၏ ၂၃-၁၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/ ခ-၀၀၄/ ၂၀၁၇(၅၂၁)

မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ချီဖွေငယ်ရေအားလျှပ်စစ်ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ကချင်ပြည်နယ်၊ ချီဖွေမြို့၏ အရှေ့တောင်ဘက် ၁၁ မိုင်ခန့်အကွာနှင့် အရှေ့ဘက် ၁၈ ကီလိုမီတာအကွာ ချီဖွေချောင်းပေါ်တွင် ၉၉ မဂ္ဂါဝပ်ရှိ ချီဖွေငယ်ရေအားလျှပ်စစ်ဓာတ်အား ပေးစက်ရုံတည်ထောင်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ဒီဇင်ဘာလ (၁၁)ရက်နေ့အတွင်း အချိန်မီပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါ စာဖြင့် မေတ္တာရပ်ခံလာမှုနှင့်ပတ်သက်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ စနစ်တကျဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်အား ပေးပို့ပါသည်။

၈.၁၂

ဝန်ကြီးချုပ်(ကိုယ်စား)
(ဝင်းညွှန့်)
ဝန်ကြီး၊ လမ်းပန်းဆက်သွယ်ရေး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန

မိတ္တူကို
ဝန်ကြီး၊ လမ်းပန်းဆက်သွယ်ရေး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန၊ ကချင်ပြည်နယ်အစိုးရအဖွဲ့
ရုံးလက်ခံ
မျှောစာတွဲ